


## ထုတ်ဝေသူ၏ဆန္ဒ

ယနေ့လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေးစာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ရောင်စုံ ကာတွန်းရုပ်ပြအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ် ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန်ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့် ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုး၊ ဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။


မောင်မျိုး
မြင့်မိုရ်မေမေစာပေ

## Publisher's Goodwill

I have tried to the best of my abilities for this color cartoon illustration to the young people especially for the children so that they can read religious books.

My intention is for the children and the young readers this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned with nationality, religion and help, teaching and culture.


Maung Myo
Myintmoh Maymay Literature

# မာတိကာ

# အနန္တငါးပါးဦးထိပ်ထား ညွှတ်တွားပါကွဲ့ မမေ့နဲ့

## Don't forget to adore five respectable ones

အနန္တငါးပါးဆိုတာ ဘုရား တရား သံဃာ မိဘနဲ့ဆရာသမားကို ပြောတာကွဲ့ ...

The five respectable ones are Buddha, Dhamma, Sangha, parents, and teacher.

ဗုဒ္ဓဘုရားရှင်ဟာ လူသားတွေ ကုသိုလ်ကောင်းမှုနဲ့ အကုသိုလ်မကောင်းမှုတို့ကို ခွဲခြမ်းစိတ်ဖြာ ဟောကြားတော်မူခဲ့ပြီး သံသရာဒုက္ခဆင်းရဲက လွတ်ရာလွတ်လမ်း နိဗ္ဗာန်စခန်းဆီ ဘယ်လိုသွားရမယ်ဆိုတာကို ညွှန်ပြခဲ့လို့ ကျေးဇူးတော် အနန္တရှိပါတယ် ...

Lord Buddha preached us what is virtue and what is vice. Buddha gave guidance to free from cyclical order of life and death and to attain nirvana.



ဗုဒ္ဓဘုရားရှင် ဟောကြားတော်မူခဲ့တဲ့ တရားဓမ္မတွေဟာလည်း လူသားတွေအတွက် ကောင်းမှု မကောင်းမှုတို့ကို ခွဲခြားသိမြင်စေပြီး ...

The discourses preached by Lord Buddha enable us to distingush between virtuous deed and vicious deed.







စွန့်ပယ်သင့်တဲ့ အကျင့်စရိုက် လိုက်နာကျင့်ဆောင်သင့်တဲ့ အကျင့်သီလတို့ကို ဖော်ညွှန်းပြထားတာမို့ ကျေးဇူးတော် အနန္တရှိပါတယ် ...

Buddha is the great benefactor who advised us what is worthy to do and what must refrain from doing it.




မိနဲ့ဖဟာ မိမိတို့ကို မွေးဖွားပေးပြီး ကျွေးမွေးသုတ် သင်ကာ ကြင်နာစွာ စောင့်ရှောက် ပျိုးထောင်ပေးတဲ့ သူများမို့ ကျေးဇူးတော် အနန္တရှိသူများပါပဲ ...
Parents give birth and nurture and look after his children. So parents are worthy to adore.


ဆရာသမားတွေဟာလည်း မိမိတို့ကို အတတ်ပညာ အသိပညာတွေ သင်ကြားပြသ ဆိုဆုံးမသူများမို့ ကျေးဇူးတော် အနန္တ တင်ထိုက်သူများဖြစ်တယ်။
The teacher teaches and admonishes you to become well-being citizen. So, also the teacher is worthy to adore.


အဲဒီလို မရေမတွက်နိုင် လောက်အောင် များပြား လှတဲ့ ကျေးဇူးတော် အနန္တ ရှိသူများကို မိမိတို့ရဲ့ ဦးထိပ် မှာထား လေးစားပြီး ရိုသေ ညွတ်တွားကြဖို့ မမေ့အပ်ပါ ဘူးကွယ်။
So you must respect to five adorable one. Don't forget to worship them.

# ဆရာမိဘဆိုဆုံးမ လိုက်နာကြကွဲ့ မမေ့နဲ့

## Don't forget the words of parents and teacher to comply

ဟေ့ကောင် မောင်သက်
ဒီနေ့မြို့ထဲက ရုပ်ရှင်ရုံမှာ လိပ်နင်ဂျာ
ကားသစ်တင်တယ်ကွ၊ သွားကြည့်
ရအောင်ကွာ..

Hey! Maung Thet. Now showing Ninja Turtle at the cinema. Let's enjoy it.

အေး ငါ့အဖေရော အမေရော
အိမ်မှာမရှိကြဘူး။ အမေ့ရဲ့အစ်ကို
ဝမ်းကွဲ ဆေးရုံတင်ထားလို့
သတင်းသွားမေးကြတယ်

My parents are not at home. They go to hospital for my mother's cousin was hospitalized.

ဒါကြောင့် အိမ်မှာ
ငါ လွတ်လပ်ရေးရ
နေတယ် ပြုံးချိုရ၊ မြို့ထဲ
လစ်ကြမယ်ကွာ

So I get freedom at home, Pyone Cho. Let's go to town.




ဟဲ့ ဟဲ့ မောင်သက်နဲ့
ဖြိုးချိုတို့ ဒါ ဘယ်လဲ
Heh! Where are you, Maung Thet and Phone Cho?


မြို့ထဲမှာ ရုပ်ရှင်
သွားကြည့်မလို့ဟ
We enjoy picture in the town.


ဟင် နင်တို့ကို
ဆရာ မှာထားတာ
မေ့သွားကြပြီလား။ စာမေးပွဲကြီးဖြေဖို့
တစ်ပတ်ပဲလိုတော့တယ်၊ ဒါကြောင့်
အပျော်အပါး မက်တာတွေ အချိန်ဖြုန်း
တာတွေ မလုပ်ရဘူး စာကို ဖိကျက်
ရမယ်ဆိုတာလေ ...
Don't you remember our teacher warned us that the promotion exam is only one week ahead. Don't waste the time.
မေမြတ်နိုးကလည်းဟာ
ငါတို့ တနင်္ဂနွေနေ့ကျောင်းပိတ်ရက်မှာ
ရုပ်ရှင်သွားကြည့်တာကို ဆရာ
သိတာမှတ်လို့ ...
We enjoy picture on Sunday. The teacher won't know about it, May Myat Noe.


အေး ဆရာက
နင်တို့ ငါတို့စာမေးပွဲကျမှာစိုးလို့
စာကိုဖိကျက်ပါ၊ အချိန်မဖြုန်းပါနဲ့လို့
ဆုံးမမှာကြားထားတာဟဲ့
The teacher worries for you lest you should fail the exam.


ငါတို့ရဲ့
ကောင်းကျိုးအတွက် ဆိုဆုံးမမှုကို
ဆရာ မိဘတွေရှေ့တင်မှာဖြစ်ဖြစ်
ကွယ်ရာမှာဖြစ်ဖြစ် လေးစားလိုက်နာ
သင့်ပါတယ်ဟာ ...
You must listen and comply your teacher in front and behind.


အေး အေးပါဟာ ငါတို့
အချိန်မဖြုန်းတော့ပါဘူး။
စာပဲ ပြန်ကျက်ပါတော့မယ်
Yes, we don't waste the time and try our lessons.



# ကိုယ့်ထက်ကြီးသူ နင်ငါဟူ၍ မသုံးနဲ့

## Don't use rude words to elderly people













သမီးလေး နဒီ ဘာဖြစ်လို့
အဲဒီလောက် ရိုင်းရတာလဲကွယ်၊
ကိုယ့်ထက် အသက်ပိုကြီးသူ
ဝါကြီးသူတွေကို နင် ငါနဲ့မပြောရဘူးကွဲ့၊
လေးလေးစားစား ခေါ်ပြောဆက်ဆံရတယ်
My daughter Nadi, why are you rude and wild like that? Don't talk rudely to your elders.


ဝါကြီးတယ်ဆိုတာ
ဘာလဲဟင် မေမေ
What do you mean seniority, mother?


ဂုဏ်ကြီးသူကို
ပြောတာကွဲ့၊ ဥပမာအားဖြင့်
လွယ်လွယ်ပြောရရင် လုပ်ငန်း
ခွင်ထဲမှာ ကိုယ့်ထက်ရာထူးကြီး
တဲ့သူ ပညာအားဖြင့် မိမိထက်
မြင့်မားသူတွေကို ဆိုလိုတာကွဲ့...
For example, in the office, junior must pay respect to his senior. If someone is senior in age or rank.


မြင့်မိုရ်မေမေစာပေ


မေမေ တီဗွီကလာတဲ့
ကိုရီးယားဇာတ်ကားတွေထဲမှာ
သားသမီးတွေက ဖအေ မအေ
အခေါ် ဦးလေးတွေကိုတောင်
နင် ငါနဲ့ပြောနေကြတာပဲဟာ
In Korea video sequel, they talk the same without designating senior or junior.


အင်း ဒါကတော့
မြန်မာပြန်သူတွေက
မြန်မာ့ယဉ်ကျေးမှုနဲ့လျော်ညီတဲ့
အခေါ်အပြောတွေ ပြန်ပေးဖို့
မေ့သွားကြလို့နဲ့တူပါရဲ့ကွယ်
Em! Perhaps the translator forget to arrange with Myanmar culture.


ဘာပဲဖြစ်ဖြစ်
မေမေတို့ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတွေ
ဟာ ယဉ်ကျေးသိမ်မွေ့ သူတွေမို့ ကြီးသူကိုရိုသေ
ဆိုတဲ့စကားနဲ့ အညီ ကိုယ့်ထက်အသက်ကြီးသူ
ဝါကြီးသူတွေကို နင် ငါနဲ့မပြောအပ်ဘူးကွဲ့
Anyhow, as we are Buddhist, we must behave politely. So junior must pay due respect to senior people.
ဘဘ
နေကောင်းပါစေ
ခင်ဗျာ
May my grandpa be healthy.


ဟုတ်ကဲ့ နောင်ကို အဲဒီလို
မပြောတော့ပါဘူး မေမေ
Yes, I don't tell rudely later.



## သူများကိုသာ ရန်မရှာ မခံချင်တာ မပြောနဲ့

## Don't talk other with rancorous behaviour









မေမေ မေမေ ဒီမှာ
ဦးမောင်ငယ်က
သမီးကို ဖက်တီးပုတ်ပြမတဲ့၊
ဝက်ပုတ်မတဲ့ အီး ဟီး ဟီး အီး

Mother, U Maung Ngai, call me
as fatty. Ee! Hee! Hee! Ee!

ဟဲ့ သမီး မေမြတ်နိုး မငိုနဲ့လေ
သမီးက ဘာဖြစ်လို့စပြီး မောင်ငယ့်ကို
ဂျပိန်လို့ပြောရတာလဲကွယ့်

Heh! Daughter, May Myat Noe,
don't cry. You start to call
him little thin man.

ကိုယ့်ကို မခံချင်အောင်ပြောတာကို
မကြိုက်ရင် ကိုယ်ကလည်း သူတစ်ပါးကို
မခံချင်အောင် မပြောရဘူး သမီးရဲ့

If you don' t like this, I must not
do to other who doesn't
like it.

သမီးက ခင်လို့
စတာပဲဟာကို

I tease him.


သူတစ်ပါးကို
မခံချင်အောင်ပြောတာ စနောက်တာဟာ
ရန်စသလိုမျိုး ဖြစ်တတ်တယ် သမီးရဲ့၊ ဥပမာ
မျက်စိစွေစောင်းနေသူကို ခြောက်စောင်း
လို့ခေါ်ရင် ဘယ်သူကြိုက်မလဲ ...
If you tease other with word which
is not disliked by other. It will
become rancorous result.
ကိုယ့်ကို သရော်သလို
လှောင်သလို နှိမ်ချသလိုမျိုး
မခံချင်အောင်ပြောဆိုတာ မကြိုက်ရင်
ကိုယ်ကလည်း သူတစ်ပါးကို မပြော
ရဘူး သမီးရဲ့ ဟုတ်ပြီလား..
If you don't want to be
humiliated, you must not
humiliate the others.
ဟုတ်ကဲ့ သမီး ဆင်ခြင်
ပါတော့မယ် မေမေ
Yes, mother, I'll
behave myself.

# မိဦး ဖဦး ဆရာဦးကို ခူး၍နော်ကွဲ့ မစားနဲ့

## Don't eat before parents and teacher

ကျောင်းပိတ်ရက် တစ်နေ့မှာတော့ ဈေးက ပြန်လာတဲ့ မြင့်မိုရ်မေမေဟာ မီးဖိုချောင်ထဲမှာ ချက်ပြုတ်လို့နေတယ်။

On one school holiday, after return from the market, Myint Mo Mai Mai cooks the meat in the kitchen.



သမီးကြီးဖြစ်တဲ့ မေမြတ်နိုးက အိမ်စာ သင်္ချာ ပုစ္ဆာတွေ တွက်နေပြီး ...

Her daughter May Myat Noe is working on arithmatics.



အငယ်ဆုံး သမီးလေး နဒီဟာ အိမ်ရှေ့ခြံဝင်းထဲက ဒန်းပေါ်မှာထိုင်ပြီး Hand Phone လက်ကိုင်ဖုန်းလေးနဲ့ Game ဂိမ်းကစားနေတယ်။

The youngest daughter Nadi sits on swing in the garden and play game with hand-phone.



သားအလတ်ဖြစ်သူ ဟိန်းထက်အောင်က ခပ်လှမ်း
လှမ်းမှာရှိတဲ့ ဘောလုံးကွင်းထဲမှာ သူငယ်ချင်းတွေနဲ့
အတူ ဘောလုံးကန်နေတယ်။

The middle son Hein Htet Aung is playing in the football ground with his friends.



မြင်းမိုရ်မေမေဟာ အားလုံးချက်ပြုတ်ပြီးတော့
အိမ်ရှေ့ဘက် ထွက်လာတယ်။

Myint Mo Mai Mai gets out of the kitchen after she has cooked the meal.




မြင်းမိုရ်မေမေ ထွက်သွားပြီး ခဏမှာပဲ ဟိန်းထက်အောင် ပြန်ရောက်လာတယ်။

No sooner than has Myint Mo Mai Mai leaves the house, Hein Htet Aung arrives back.



မောင်နှမနှစ်ယောက် အိမ်ပေါ် ပြေးတက်လာပြီး မီးဖိုခန်းထဲဝင်ကာ ထမင်းနဲ့ဟင်းကို ခူးခပ်ဖို့ အိုးလှန်သူလှန် ပန်းကန်ဆွဲသူဆွဲ လုပ်နေတုန်း မေမြတ်နိုးက တားမြစ်ရတော့တယ်။

Brother and sister rush into the dining room and take the dished, open the pots of curry.....



ဟဲ့ မောင်လေးနဲ့ညီမလေး ထမင်းဟင်းကို မိဘ ဆရာသမားတွေထက် အရင်ဦးအောင် ခူးခပ်မစားကောင်းဘူးကွဲ့၊ အဲဒီလို စားရင် အပြစ်ဖြစ်ပြီး ခံတွင်းနံ့ နံတတ်တယ်...

Heh! Brother and sister, don't eat before the parents and teachers, or you'll have the foul small in your mouth.

အို ဟုတ်လား

Is that so!

အေး မေမေပြန်လာမှ စားကြ ဟုတ်လား

Eat when mother comes back.

ဟုတ်

Yes.

# ပရမ်းပတာ သူ့ထက်ငါ လုယက်ကာကွယ် မစားနဲ့

## Don't eat the meal in disorder behaviour

ဒီနေ့ ရုံးပိတ်ရက် ကျောင်းပိတ်ရက်မို့ မေမြတ်နိုးတို့မိသားစု ထမင်းဝိုင်းလေးဟာ လူစုံတက်စုံနဲ့ ပျော်စရာကောင်းလှတယ်။

Today is the school and office holiday, they meet together in dining table.















မြင့်မိုရ်မေမေရဲ့ စကားအဆုံးမှာပဲ ဟိန်းထက်အောင်နဲ့နဒီဟာ ဆိတ်ကလီစာ ဟင်းပန်းကန်ကို ပြိုင်တူလှမ်းနှိုက်လိုက်ကြတော့တယ်။

When Myint Mo Mai Mai has said, Hein Htet Aung and Nadi snatch the viscera of goat curry.



ဟိန်းထက်အောင်က ဇွန်းကိုဦးသွားလို့ ဟင်းဖတ်တွေ ခပ်ထည့်နေတုန်း ...

While Hein Htet Aung is taking the curry into his plate.



နဒီကလည်း ဝက်သားဟင်း ပန်းကန်ထဲကဇွန်းနဲ့ ဆိတ်ကလီစာဟင်းတွေ ကပျာကသီခပ်ထည့်တော့တယ်။

Nadi takes the spoon from the dish of pork and take the viscera of good curry.







ဟဲ့ ဟဲ့ ကလေးတွေ ဘယ့်နှယ် အလုအယက် ဖြစ်နေကြတာလဲ၊ အဲဒီလို ကျားစီးဖားစီး လုယက် မစားရဘူးလေ
Heh! Children, don't snatch the curry like that.


ထမင်းစားတဲ့အခါ ဣန္ဒြေနဲ့ သေသေ ဝပ်ဝပ်စားမှပေါ့
Eat the meal with steady and style.


ဟုတ်ပါ အငတ်တွေ ကျနေတာပဲ
Yes, we seem to be in starvation.




ကဲ တွေ့လား ပရမ်းပတာ သူ့ထက်ငါ လုယက်စားတော့ သူများတွေ အထင်သေး ကဲ့ရဲ့စရာဖြစ်ပြီ
If you snatch the curry like that, you'll be under estimated.
မှားပါတယ်
We've done wrong.



# ငြိမ်သက်သားနား သတိထား ကောင်းကောင်းစားကွဲ့ မဖိတ်စေနဲ့

## Don't spill the food while you're eating

ဒီနေ့ ဒေါ်လေးတို့အိမ်မှာ ဝါဆိုသင်္ကန်း ကပ်ပြီး အလှူပွဲလေးလုပ်လို့ မေမြတ်နိုး တို့ မိသားစု သွားကာ ...

May Myat Noe and family visit to their aunty at the occasion of the offering of Waso-robe.

အလှူမှာ ထမင်းစားကြတော့ ထမင်းဝိုင်းမှာ အခြားသူနှစ်ယောက်လည်း အတူထိုင်စားကြတယ်..

In the dining table, there are two visitors included.




ဟာ ငါ ခပ်ယူဖို့
မှန်းထားတဲ့ကြက်
ရင်အုပ်သားကြီးကို ဦးဖြူလူ
ခပ်သွားပြီ
Huh! U Phyu Lu take breast of chicken which I intend to take it.


ပုစွန်ထုပ်ကို
ငါ ဦးအောင်
ခပ်မှ
I'll take the prawn first.
ဟိန်းထက်အောင်က သူများထက်ဦးအောင်
ပုစွန်ထုပ်ကို ကပျာကယာ လှမ်းခပ်ယူ
လိုက်ရာ ...
To get in advance, Hein Htet Aung takes the prawn hastily.


ပုစွန်ထုပ်က စားပွဲပေါ် ကျသွား
တော့တယ်။
The prawn falls on the table.
မြင့်မိုရ်မေမေက ခပ်တိုးတိုး ဆူတော့တယ်။
Myint Mo Mai Mai scolds him with soft tone.


ဟိုက်
Heitt!
သား မေမေ
မှာထားတယ်
မဟုတ်လား။ ထမင်းစားတဲ့
အခါ ငြိမ်ငြိမ်သက်သက်နဲ့
ကောင်းကောင်းစားပါလို့
Son, I've told you that not to eat with haste.


ကြည့်စမ်း
ထမင်းလုံးတွေလည်း ဖိတ်လို့
Look! The rice spill around your plate.
ပရမ်းပတာ စားတဲ့အတွက် စားပွဲခင်းပေါ် ထမင်းလုံးတွေရော ဟင်းရည်တွေပါ ဖိတ်စင်ကျနေတဲ့ ဟိန်းထက်အောင်ကို ကြည့်ပြီး ဦးဖြူးလူဆိုတဲ့ လူကြီးက နှုတ်ခမ်းမဲ့သွားတယ်။
You eat disorderly, there are spilled rice over the table. Looking at Hein Htet Aung, U Phyu Lu wrinkles his lips.


ဟွန်း စည်းကမ်းမရှိ မယဉ်ကျေးလိုက်တဲ့ကလေး
No discipline boy! Lack of politeness.


ငါ ငါ ပရမ်းပတာစားမိလို့ အရှက်ကွဲရပြီ၊ အိမ်ကျရင်လည်း အဆူခံထိတော့မယ်၊ တော်ပြီ နောင်ဆို ငြိမ်ငြိမ်သက်သက်နဲ့ မဖိတ်စင်အောင် သတိထား စားတော့မယ်
It's shameful for me for I eat in disorder. Later I'll eat steadily.

# လက်ကိုလျက် မစားရာ ရှောင်ရှားပါကွဲ့ ကောင်းအောင်တဲ့

## Don't lick your fingers while you're eating













လက်ကို
လျှာနဲ့လျက်စားတာဟာ
စည်းကမ်းမရှိသူ၊ မယဉ်ကျေးသူ ငတ်ပြတ်
နေတဲ့သူတွေမှလုပ်တဲ့အလုပ်ကွဲ့.
Licking your finger is not polite behaviour. Don't behave as a boy of famine.


ဟင်းပန်းကန်ထဲမှာ
ဟင်းတွေရှိသေးတာပဲ
စားချင်ရင် ခပ်စား လက်ကို
မလျက်ရဘူး
If you want to eat there remains curries in the dish. You can take and eat it.


ရွံစရာ စက်ဆုပ်စရာ
အဲဒီအလုပ်ကို
လူရှေ့သူရှေ့မှာဖြစ်ဖြစ် လူကွယ်ရာ
မှာဖြစ်ဖြစ် လုံးဝမလုပ်ရဘူးနော်
Don't do such a loathsome behaviour in front and behind the people.
ဟုတ်
ဟုတ်ကဲ့ပါ
Yes sir.



## နှုတ်ခမ်းပါးနား လျက်ကာစား ရှောင်ရှားပါကွဲ့ ကောင်းအောင်တဲ့

### Don't lick around your mouth











မြင့်မိုရ်မေမေစာပေ


ရှက်စရာ ရွံစရာကောင်းတဲ့ အဲဒီအကျင့်ဆိုးကို သတိထားပြီး ပြင်စမ်း
Repair your habit of this shameful and loathsome habits.


မေမေ နှုတ်ခမ်းပါးနားကို လျှာနဲ့လျက်တာ ခွေးတွေမှ လျက်တာနော် မေမေ
Only the dog licks his lips. Is that right, mother.


ကိုကိုနော်
Brother!
ဟုတ်တယ် သမီး၊ ခွေးတွေဟာ အစာစားပြီးတိုင်း လျှာနဲ့နှုတ်ခမ်းပါးနားကို လျက်လေ့ရှိတယ် ကွယ့်၊ ဒါကြောင့် ခွေးတွေလုပ်တဲ့အလုပ်ကို လူတွေမလုပ်ရဘူး မှတ်ထားနော်
Yes, when dog has eaten his food he used to lick his lips.


ဟုတ်ကဲ့
Yes.

## လျှာကိုထုတ်ကာ မစားရာ ရှောင်ရှားပါကွဲ့ ကောင်းအောင်တဲ့

Don't protrude your tongue while you are eating










ခစ် ခစ် ခစ်
တီရစ္ဆာန်ရုံထဲက
သစ်ကုလားအုတ်ကြီး
စားသလိုမျိုးပဲ
It's just like the eating
habit of giraffe in the
zoological garden.


ဟုတ်တယ်
အဲဒီလို မယဉ်ကျေးတဲ့
စားပုံမျိုးဟာ တိရစ္ဆာန်တွေ စားတဲ့
ပုံစံမျိုးမို့ ယဉ်ကျေးတဲ့လူတွေဟာ
အဲဒီလို လျှာထုတ်ပြီး မစားသင့်ဘူးကွယ့်
Yes, that's the eating habit of animal.
As we are polite human, we don't
need to do like that.


နင့်ကို ခွေးနဲ့နှိုင်းလို့
ငါ့ကိုသစ်ကုလားအုတ်နဲ့ ပြန်
နှိုင်းတာပေါ့ ဟုတ်လား
တွေ့မယ် ဟင်း
I compared you with
the dog. So you compare
me with the giraffe.
ခစ် ခစ်
Kheet! Kheet!

## ဟင်းရည်သောက်ပြန် ရှူးရှူးသံ ကောန်မပြုနဲ့

## When you drink the soup don't make any shoo













ရှူး
Shoo!
ရှူး
Shoo!


အဲဒီလို ဟင်းရည်တို့ ဟင်းချိုတို့ ခေါက်ဆွဲပြုတ်တို့ကြေးအိုးတို့ကို တရှူးရှူးနဲ့ အသံထွက်အောင် စုပ်သောက်တာဟာ အတူစားနေတဲ့သူတွေကို စိတ်အနှောင့်အယှက် အင်မတန် ဖြစ်စေတယ်ကွယ့်
When you drink soup, noodle with sound of shoo will disturb the surrounding.


ဒါကြောင့် ယဉ်ကျေးတဲ့သူတွေ ဆိုရင် အဲဒီလို အပြုအမူမျိုး မလုပ်မိအောင် ရှောင်ရှားရ မယ်ကွယ့် ဟုတ်ပြီလား
So, polite people must refrain from doing so.
ဟုတ်ကဲ့ပါ မေမေ
Yes, mother.

## ထမင်းဟင်းပေလျက် သောက်ရေခွက် လက်နဲ့မကိုင်နဲ့

## Don't touch the water-cup with the hand with piece of curry













ဗိုပြီးဆိုးတာက သူ့ရဲ့ လက်က ထမင်းလုံးတွေ ဟင်းဖတ်တွေဟာ သောက်ရေခွက်မှာကပ်နေရာက
Moreover the grain of cooked rice will stick to the water-cup.


အဲဒီ ရေခွက်နဲ့သောက်ရေအိုးထဲ နှစ်ခပ်ရင် သောက်ရေအိုးထဲ ထမင်းလုံးတွေ ဟင်းဖတ်တွေဝင်သွားရော၊ ကဲ ဘယ်လောက် စိတ်ပျက်ဖို့ကောင်းလဲ
When the water-cup is immersed into the water-pot, the grain of rice will fall into it. How loathsome it is.


ဟုတ်တယ်နော် မေမေ၊ ရွံစရာကြီး သမီးတို့ ထမင်းဟင်း ပေနေတဲ့ လက်နဲ့ သောက်ရေခွက်ကို မကိုင်မိအောင် သတိထားပါမယ် မေမေ
Yes, it is very loathsome. We must take care not to handle the water-cup without washing the hand.

## ထမင်းဟင်းပေလျက် ညာလက်နဲ့ ဇွန်းကိုမကိုင်နဲ့

## Don't grip the spoon with right hand sticks with food

အမယ်လေး ဦးဖြူးလူဆိုတဲ့ ဦးလေးကြီးလည်း ဘာထူးသေးလဲ၊ အဲဒီ ဝါဆို သင်္ကန်းကပ်အလှူတုန်းက သမီးတို့နဲ့ တစ်ဝိုင်တည်းစားရာမှာ

In the occasion of offering the Waso-robe, U Phyu Lu was with us in the same dining table.

ထမင်းစားတဲ့လက်ကြီးနဲ့ ဟင်းပန်းကန်က ဇွန်းတွေကို ကိုင်ပြီး ခပ်တယ် သိလား မေမေ

With the hand he has kneaded grasped the spoon of the curry.

သူ အဲဒီလို ခပ်တော့ ဟင်းပန်းကန်ထဲက ဇွန်းမှာ ထမင်းလုံးတွေ ကပ်ကျန်ပြီး သမီးလည်း အဲဒီဟင်းကိုခပ်ရော သမီးရဲ့လက်မှာပေကျန်တယ် မေမေ

The rice sticks on the handle of spoon and when we grasp it, it sticks to our fingers.

အင်း ဒါကြောင့်
သမီးတို့ သားတို့ကို မေမေ
အမြဲတမ်းမှာတာပေါ့ကွယ်၊ ထမင်းစားတဲ့
အခါ ထမင်းဟင်းပေးနေတဲ့ ညာလက်နဲ့
ဟင်းပန်းကန်ထဲကဇွန်းကို မကိုင်ဖို့...
So I have told you not to grasp the spoon with the right hand.

ထမင်းဟင်း မပေတဲ့
ဘယ်ဘက်လက်နဲ့ပဲ
ဟင်းဇွန်းကို ကိုင်ဖို့
သေချာမှာထားတာပေါ့
Use left hand when you pick-up the curry.

ဟုတ်ကဲ့ သမီးတို့
သားတို့ အဲဒီအတိုင်း
လိုက်နာပါ့မယ် မေမေ
Yes, we will do like this, mother.

## ထမင်းစားရာ စားအစာ များစွာစကား မပြောနဲ့

## Don't talk too much while you are eating













ကဲ သား
ဟိန်းထက်အောင်နဲ့သမီးငယ်
နဒီ၊ ဘာဖြစ်လို့ စကားများနေကြတာ
လဲ၊ ထမင်းစားနေတဲ့အချိန်မှာ
စကားများများမပြောရဘူးလို့ မေမေ
မှာထားတယ်မဟုတ်လား
Hein Htet Aung and Nadi.
I warned you that not to
talk too much while you
are eating.


ဟုတ်တယ် နင်တို့စကားမများကြနဲ့၊
နင်တို့ထမင်းစားရင်း စကားတွေပြောတော့
ပါးစပ်ထဲက ထမင်းလုံးတွေ ပြန်ထွက်ပြီး
ဟင်းပန်းကန်တွေထဲ ဝင်ကုန်ပြီ
When you talk too much while
eating, the rice will come out
from your mouth and fall
into the curry.


ရွံစရာ
ကောင်းလိုက်တာ
It's loathsome.


အဲဒါကြောင့်
မေမေပြောတာပေါ့၊ လူတော်တော်
များများဟာ ထမင်းဝိုင်းကျမှ စကားကို ရေပက်
မဝင်အောင် ပြောလေ့ရှိကြတယ်၊ တချို့ဆို
အာပေါင်အာရင်းသန်သန်နဲ့ ငြင်းခုန်တာတို့
ဟားတိုက်တာတို့ လုပ်တတ်သေးတယ်
Some make argumont and even burst into laughter while they are eating.


အဲဒီလို စကားများရင် ရယ်မောရင်
ပါးစပ်ထဲက ထမင်းလုံးတွေ တံတွေးတွေ
ဟင်းပန်းကန်တွေထဲစင်ပြီး ဝင်ကုန်မယ်
ဆိုတာကို သတိမပြုမိကြဘူး
The foods from the mouth and saliva will drop out into the curry. They don't care about it.


တော်ပါပြီ မေမေရယ် သားတို့
ထမင်းစားရင် စကားမပြော
တော့ပါဘူး ရွံ့လွန်းလို့ ဟီး
ဟီး ဟား ဟား ဟား
We won't talk too much while we are eating.


အဲ
Eh!

# စားပြီးသောအခါ စင်ကြယ်စွာ ဆေးကြောပါကွဲ့ ကောင်းအောင်တဲ့

Wash your hand clean when you have eaten the meal







ဟိန်းထက်အောင်က ပြောပြောဆိုဆို ဘေစင်မှာ လက်ကိုရေနဲ့ဆေးပြီး...

So saying, Hein Htet Aung wash his hand with running water at the basin.





လက်သုတ်ပဝါမှာ သုတ်လိုက်တယ်။

Then he clean with the towel.



သား ဟိန်းထက်အောင် ထမင်း
စားပြီးရင် လက်ကိုစင်ကြယ်အောင်
ဆေးရမယ်လို့ မေမေ မှာထားတယ်မဟုတ်လား
Son, Hein Htet Aung, when you've eaten, wash your hand clean.

သား ဆေးတယ်လေ
မေမေရဲ့
I washed it mother.

သားကို
စင်အောင်ဆေးဖို့ပြောတာကွဲ့၊
လက်ဟာ ဆပ်ပြာနဲ့ဆေးမှ
တကယ်စင်ကြယ်တာ၊ အနံ့အသက်
ဆိုးတွေကင်းစင်တာကွဲ့
To clean thoroughly, you must wash with the soap, or its smell will retain in your hand.

မေမေရာ ဆပ်ပြာဆိုတာ မပေါ်
ပေါက်ခင်ကလည်း လူသားတွေဟာ
အသက်ရှင်နေထိုင်ခဲ့ကြတာပါပဲ
Before the soap was invented people used to wash with water. They lived like that.


ဒီမှာ သား။
ဆပ်ပြာဆိုတာ ပေါ်ပေါက်လာ
ပြီးတဲ့နောက်ပိုင်း လူ့ရဲ့သက်တမ်း
ပိုရှည်လာတယ်လို့ ကမ္ဘာ့ကျန်းမာရေးအဖွဲ့
တွေရဲ့သုတေသနပြုချက်အရ သိရတယ်တဲ့
Son, after the soap was invented, the people live longer than before. The world health organisation has approved it.


ဒါကြောင့် လက်ပဲဖြစ်ဖြစ် အိုးခွက်
ပန်းကန်ပဲဖြစ်ဖြစ် ဆပ်ပြာနဲ့ဆေးမှ
တကယ်စင်ကြယ်ပြီး ရောဂါဖြစ်
စေမယ့် ဘက်တီးရီးယားပိုးတွေ
ကင်းစင်မှာကွဲ့.
So not only hand but also the cooking pots washing with soapis certainly a good result.


ရောဂါပိုးတွေ ကင်းစင်တော့
ရောဂါတွေမဝင်လာဘဲ ကျန်း
မာမယ်၊ ပြီးတော့ အသက်
ပိုရှည်မယ်လေ
So the disease germs won't effect you. Your health will be improved and you can live longer.
သားသဘောပေါက်ပါပြီ
မေမေ၊ ဆပ်ပြာနဲ့စင်ကြယ်
အောင်ဆေးပါတော့မယ်
I realize mother and I'll wash my hand with soap.



# ယဉ်ကျေးအောင်သွား ယဉ်အောင်စား စကားပြောလည်း ယဉ်စေကွဲ့

Go politely, eat politely and speak politely







အသက်ကြီးတဲ့သူတွေ အလေး
အပင် မ,လာ ထမ်းလာတဲ့သူတွေ
သူတို့ထက် ငယ်သူတွေနဲ့
ရင်ဆိုင်တိုးတဲ့အခါ
When they find over-weight
bearers, small children
and old people
သူတို့က လမ်းဖယ်ပေးကြ
ရှောင်တိမ်းပေးကြတယ်
they help them by
giving way.


အလျှုတို့ဘာတို့မှာ
သူတို့မိသားစုနဲ့ဆုံဖူးတယ်၊
ကလေးတွေက စားတဲ့သောက်တဲ့အခါမှာ
စည်းကမ်းရှိပြီးယဉ်ကျေးတယ်
I've met with her family. The
children eat neat and tidy
as well as displined
children.


မြင့်မိုရ်မေမေစာပေ


စကားပြောတဲ့အခါမှာလည်း လိမ္မာရေးခြားရှိပြီး အင်မတန် ယဉ်ကျေးကြတယ် မတင်ရီရဲ့
They speak politely also. They are very polite indeed, Ma Tin Yi.


အင်း ကျွန်မတို့ရဲ့သားသမီးတွေကိုလည်း လိမ္မာယဉ်ကျေးစေချင်လိုက်တာရှင်
I want my children to be clever and polite like them.
ရှင့်ရဲ့သားသမီးတွေကို အစစအရာရာမှာ ယဉ်ကျေးလိမ္မာစေချင်ရင် မြင့်မိုရ်မေမေလိုပဲ သားသမီးတွေကို အမြဲစောင့်ကြည့်ပြီး ဆုံးမသွန်သင်ပေးပေါ့
If you want your children like them, you must watch your children and admonish like Myint Mo Mai Mai.

# ရဟန်းသံဃာရှေ့မှောက်မှာ ရိုသေစွာတဲ့ သွားပါကွဲ့

## Go politely in front of the monks

မေမြတ်နိုးတို့မောင်နှမတစ်စု ကျောင်းကပြန်လာတဲ့ အခါ ဆွမ်းဆန်စိမ်းအလှူခံဖို့ ရပ်ကွက်ထဲ တန်းစီ ကြွလာကြတဲ့ သံဃာတော်တွေနဲ့ လမ်းမှာ ဆုံနေ တော့တယ်။

When May Myat Noe and her brother and sister return home, they see the monks going out in line to collect alms.

ဟယ် သံဃာတော်တွေ အများကြီးပဲနော်

Hm! There are so many monks.



လမ်းဆုံက မဏ္ဍပ်ရှေ့မှာ သံဃာတော်တွေ တန်းစီပြီး ရပ်တန့်တော်မူနေကြချိန်မှာ ကျောင်းသား ကျောင်းသူတွေဟာ သံဃာတော်တွေရဲ့ရှေ့ကနေ ခပ်သုတ်သုတ် ဖြတ်ပြန်နေကြတယ်။

In front of the pavilion, when the monks are standing still, the children pass quickly and politely.














ဒီလိုနဲ့ မေမြတ်နိုးတို့မောင်နှမတွေဟာ ရဟန်းသံဃာတော်တွေရဲ့ရှေ့ကနေ ဦးခေါင်းလေးတွေ ညွတ်ငုံ့ပြီး ရိုသေလေးစားစွာ ဖြတ်သန်းသွားကြတယ်။

In this way, they pass in front of the monks, they bow down their heads as a due respect.



## လူကြီးသူမ ရှေ့သို့ကျ ကုန်းကွ၍တဲ့ သွားပါကွဲ့

When you go in front of the elderly people, bend down your body










မေမြတ်နိုးတို့မောင်နှမ သုံးဦးဟာ လက်ကလေးတွေပိုက် ဦးခေါင်း လေးတွေ ငုံ့ကိုင်း ခါးလေးတွေညွတ်ကိုင်းပြီး ဖြတ်သွားကြတယ်။
They fold their arms, bend their bodies and pass among them.


အင်း ဆရာမကြီးရဲ့ ကျောင်းက ကလေးတွေ အတော်လိမ္မာယဉ်ကျေးတာပဲ...
Em! Your schoolchildren are very clever and polite.


အခုခေတ် လူငယ်တော်တော်များများဟာ ဆရာသမား လူကြီးမိဘတွေရဲ့ရှေ့မှာ ရိုသေသမှုနဲ့ ခေါင်းညွတ် ငုံ့သွားရလာရမှန်း မသိကြတော့ဘူးဗျ
Today, most of the schoolchildren don't know how to bow down their head as a gesture of due respect.


ဟုတ်တယ် လူငယ်တော် တော်များများဟာ ယဉ်ကျေးမှု မဲ့ပြီး ရိုင်းကြတယ်ဗျာ
Yes, most of the youths are not polite and rude in their manner.


ဒါကတော့ လူကြီးမိဘ ဆရာသမားတို့ရဲ့ရှေ့မှောက် ဖြတ်သန်းသွားလာရတဲ့အခါ ဦးခေါင်းညွတ်ငုံ့ပြီး ရိုရိုသေသေ ဂါရဝပြု သွားလာရမယ်လို့ ကျွန်မတို့ကျောင်းက လည်း သင်ကြားဆုံးမသလို
We teach the schoolchildren to bow down their heads and bend down their bodies whenever they pass near the elderly people.
သူတို့မိဘတွေကပါ ဆုံးမပဲ့ပြင်ထားလို့ ကလေးတွေ ယဉ်ကျေးနေကြတာပါပဲရှင်
Their parents admonish them to behave politely and cleverly.


ကောင်းပါလေ့ဗျာ ကောင်းပါလေ့
That's very good indeed.

# အိမ်ပေါ်ကျောင်းပေါ် ဇရပ်ပေါ် သွားသော်ခြေနင်း မပြင်းနဲ့

## Go softly on the monastery, house and rest house




မေမြတ်နိုး ဟိန်းထက်အောင်နဲ့ နဒီတို့မောင်နှမ သုံးယောက်စလုံး လိုက်ပါသွားကြတယ်။
May Myat Noe, Hein Htet Aung and Nadi also follow with them.





ဆရာတော်ကြီး သီတင်းသုံးနေတဲ့ ကျွန်းလျှာထိုးခင်းထားရာ ဘုန်းတော်ကြီးကျောင်းရဲ့အပေါ်ထပ်ဆီ မိသားစု တက်သွားကြတဲ့အခါ ...

They climb upstair to the teak-flooring monastery.

ဟဲ့ ဟဲ့ သား ခြေသံ ပြင်းပြင်း မနင်းနဲ့လေ

Control your footfall son, don't be noisy.

သား အိမ်မှာနင်းသလို နင်းတာပါ မေမေရဲ့

I tread on it as I tread at home.

အေး မေမေတို့အိမ်က တိုက်အိမ်အောက်ထပ်က သံမံတလင်းခင်းပြီး အပေါ်ထပ်မှာ ဆလတ်လောင်းထားတာဆိုတော့ သား ခြေကို ဘယ်လိုနင်းနင်း အသံမထွက်ဘူးပေါ့...

Our house has concrete flooring, when you tread on it, it doesn't make noise.




ဒီဘုန်းဘုန်းကျောင်းမှာက
အောက်ထပ်က သမံတလင်း
ခင်းထားပြီး ဒီအပေါ်ထပ်က လျှာထိုး
ခင်းထားတာ သားရဲ့၊ ဒီလိုကြမ်းပြင်ပေါ်
မှာ လမ်းလျှောက်တဲ့အခါ ခြေသံပြင်းပြင်း
မနင်းရဘူးကွဲ့.
Sayadaw's monastery has
teak-flooring on concrete flooring.
Wherever you go don't
tread soundly.


အိမ်မှာဖြစ်ဖြစ်
ကျောင်းမှာဖြစ်ဖြစ် ဇရပ်မှာဖြစ်ဖြစ်
လမ်းလျှောက်တဲ့အခါ ခြေသံပြင်းပြင်း
နင်းရင် ဆင်းရဲတတ်တယ်လို့
ရှေးလူကြီးတွေ ပြောထားခဲ့တယ်ကွဲ့.
If you tread on any floor soundly,
there is an ancient saying
that it will make you to be
in poverty.


ဟုတ်ကဲ့ သား ခြေသံပြင်းပြင်း
မနင်းတော့ပါဘူး မေမေ၊ သတိ
ထားပါတော့မယ်
Yes, I'll tread on it
softly.

## ဒူးထောင်ပေါင်ကား ဆရာ့နား အလျားမှောက်၍ မနေနဲ့

## Don't behave unpolitely near your teacher









မေမြတ်နိုးတို့ အချိန်အတော်ကြာ လေ့ကျင့်ပြီးလို့ ခဏနားတဲ့အချိန်မှာ ဆရာဟာ အက လေ့ကျင့်နေတဲ့ သိပ္ပံခန်းမဆောင်ထဲ ဝင်လာပြီး လျှာထိုးကြမ်းပြင်ပေါ် ထိုင်နားနေကြတဲ့ တပည့်မလေးတွေရဲ့အနားမှာ လာထိုင်ကာ အားပေးစကား ပြောပြန်တယ်။

At the recess hour, while May Myat Noe and other schoolgirls are taking a rest in the science hall, the teacher comes in and encourages them.

ဘယ့်နှယ်လဲ မောနေကြပြီလား ဆရာ လက်ဖက်ရည်နဲ့မုန့် မှာထားတယ် အခုပဲ လာပို့လိမ့်မယ်

Are you tired now. I order tea and snack for you.

ဝေး ဒါမှ တို့ ဆရာကွ

Weii! That's our teacher.



ဟဲ့ ဟဲ့ ကေခိုင် ဆရာ့နားမှာ ဒူးထောင်ပေါင်ကား မနေနဲ့လေ၊ ဆရာ့ကို မလေးစားရာရောက်တယ်
Heh! Kay Khaing, don't sit spreading your legs near the teacher.

ညောင်းလို့ ကျောဆန့်တာပါ မေမြတ်နိုးရဲ့၊ ပက်လက်လှန်ပြီး ဒူးထောင်ပေါင်ကား မနေရဘူးဆိုရင်
My back is aching. So relax like this May Myat Noe.

ဟောဒီလို မှောက်အိပ်မယ်
I sleep on my abdomen like this.

ဟဲ့ ဟဲ့ ငါတို့ မေမေက မှာထားတယ်ကေခိုင်ရဲ့၊ ယဉ်ကျေးတဲ့သူ ဆိုရင် ဆရာ့နားမှာ အလျားမှောက်ပြီး လည်း မနေသင့်ဘူးတဲ့
Heh! My mother warns me that if a girl is polite don't behave like that in front of the teacher.

ကောင်းရော ဒါဆိုရင်လည်း ထိုင်ပြီးပဲ နေပါတော့မယ်ရှင်
Well, I'll sit like this.

# ဒူးထောင်ပေါင်ကား မိဘနား အလျားမှောက်၍ မနေနဲ့

## Don't behave unpolitely near your parents



တစ်နေ့ ညစာစားပြီးတဲ့နောက် ဧည့်ခန်းထဲမှာ မေမြတ်နိုးတို့မိသားစု ကိုရီးယားကားကြည့်နေကြတယ်။ ဖေဖေနဲ့မြင့်မိုရ်မေမေတို့က ဆိုဖာပေါ်မှာ ထိုင်နေကြပြီး မေမြတ်နိုးတို့ မောင်နှမသုံးယောက်က ကော်ဇောပေါ်မှာ ထိုင်ကြည့်နေကြတယ်။

One day, after they have eaten the dinner, May Myat Noe's family enjoy watching the Korea video sequel. The father and Myint Mo Mai Mai sit on sofa and they sit together on the rug.




ဟဲ့ သမီး၊
လူကြီးမိဘတွေရဲ့ နားမှာ
အလျားမှောက်ပြီး
မနေရဘူးကွဲ့.
Heh! Daughter, don't lie on your abdomen in front of the elderly people.


မေမေကလည်း
ညောင်းလို့ပါ
Mother, my muscles are tense.


အဲဒီအချိန်မှာ ဇာတ်ကားပြနေရာက
ကြော်ငြာဝင်လာတော့ ...
At that time, the advertisement appears.
ဟွန်း ကြော်ငြာက
လည်း ခဏခဏပဲ
They show advertisement very often.


ကြော်ငြာကို မကြည့်ချင်တာနဲ့ မေမြတ်နိုးဟာ
ပက်လက်လှန်အိပ်တယ် ...
As she doesn't want to watch advertisement, May Myat Noe lies down on her back.




ကြော် ဒီကလေးမ
ပြောရတယ်ခက်ပါလား
လူကြီးမိဘနားမှာ ဒူးထောင်ပေါင်ကား
မနေသင့်ဘူးကွဲ့.
What a stubborn child you are!
Don't spread your legs in front
of your parents.


အဲဒီလိုနေထိုင်တာဟာ
မိန်းကလေး မပီသသလို
လူကြီးမိဘတွေကို ဂရုမစိုက် ဂါရဝ
မထားဘဲ သဘောမျိုးဖြစ်တယ်ကွဲ့.
It isn't the polite girl's
behaviour. It is the
gesture of unrespectful
behaviour.


ဟုတ်ကဲ့ပါ မေမေ
သမီးထနိုင်ပါပြီ
Yes, mother, I
can sit well.
အပျင်းထူလို့
မရတော့ဘူး ဟီး ဟီး
I'm no longer
a lazy-bone.
ဟွန်း
Hunn!



## အိပ်တဲ့နေရာ အိပ်ပြီးခါ သိမ်းကြပါကွဲ့ ကောင်းအောင်တဲ့

## When you wake up, put your bed neat and tidy

ဒီနေ့မနက်မှာ ကျောင်းပိတ်ရက်မို့ သူငယ်ချင်းတွေနဲ့ ဘောလုံးကန်ဖို့ ချိန်းထားတာကို သတိရသွားတဲ့ ဟိန်းထက်အောင်ဟာ..

Hein Htet Aung remember to play football with his friends in the holiday.

ဟာ ဟိုကောင်တွေ စောင့်နေတော့မယ် မိုးတောင်လင်းနေပြီ

Huh! My friends will wait me to play.

အိပ်ရာထဲ မှိန်းနေရာကနေ လူးလဲထလိုက်တယ်၊ ပြီးတော့ အိပ်ခန်းထဲကထွက် ...

He rises up from the bed.



သွားတိုက် မျက်နှာသစ်ပြီး အိမ်ထဲကထွက်မယ် အလုပ် ...

After he has brushed his teeth, washed his face and about to get out.






မေမေရေ ဒီမှာ ကိုကိုပေါ့၊ အိပ်ရာကထသွားတာ သူ့ အိပ်ရာကို သိမ်းမသွားဘူး
Mother, brother gets up and go out without keeping his bed neat and tidy.
ချွန်တွန်းမလေး ကတော့ ချွန်ပြီ
She tells my untidiness.


သား ဟိန်းထက်အောင် မနက်မိုးလင်း အိပ်ရာကထတာနဲ့ အိပ်ရာကို အရင်သိမ်းရမယ်လို့ မေမေ ပြောထားတယ် မဟုတ်လား
Hein Htet Aung, when you get up, you must first keep your bed neat and tidy as I've told you.


မေမေကလည်း သား ဘောလုံးကန်ဖို့ သွားမှာမို့ပါ
Mother, I'm going to play football.



အေး ဘာပဲဖြစ်ဖြစ်
လူဆိုတာ မနက်အိပ်ရာက
နိုးချိန်ကစပြီး ကိုယ့်တာဝန်ကိုယ်
ကျေရတယ်ကွဲ့၊ အိပ်ရာကထထချင်း
ပထမဦးဆုံးထမ်းရွက်ရမယ့်တာဝန်
ကတော့ ကိုယ့်အိပ်ရာကိုယ်သိမ်းဖို့ပဲ

Anyhow, human must keep his bed clean when he wakes up. That's the first duty when you rise up.

အဲဒီလို မသိမ်းဘဲထားရင်
အကျင့်ပါသွားတတ်တယ် သားရဲ့၊
ကိုယ့်တာဝန်ကို ကိုယ်ကျေပွန်အောင်
မထမ်းချင်တဲ့အကျင့်လေ

If you don't keep your bed clean once, this bad habit last forever.

သား နားလည်ပါပြီ
မေမေ၊ သားရဲ့အိပ်ရာကို
သား သိမ်းပါတော့မယ်

Yes, I realize mother, I'll keep my bed neat and tidy.

လိမ္မာသွားပြီပေါ့
ခစ် ခစ်

You clever now, aren't you? Kheet! Kheet!



## သောက်ရေသုံးရေ မရှိချေ ရေကိုခပ်ကွဲ့ မပျင်းနဲ့

## If you don't have any water, fetch and fill with it










သား၊ မင်းတို့က
အိမ်မှာလည်း ကိုယ်ပိုင်ရေစက်နဲ့
ရေသန့်ဘူးပို့တဲ့သူနဲ့ အရာရာ အဆင်ပြေနေလို့
တစ်ခါတလေလေး ကိုယ့်ခြံဝင်းထဲကရေ
တောင် ကိုယ်မခပ်ချင်တော့ဘူးလားကွာ
Son, you get the water easily and daily. While the water delivery boy is sick, don't you fetch the water from the reservoir.


ဖေဖေတို့ မင်းအရွယ်ကဆို အိမ်မှာ
ရေစက်လည်းမရှိဘူး။ သူများ
ရေစက်က ရေလိုက်ထည့်ပေး
တာမျိုးလည်း မရှိသေးဘူး
When I was at your age, I don't have pumping machine.


ဒါကြောင့်
ကိုက်တစ်ရာကျော်လောက်ဝေးတဲ့
လမ်းထိပ်က ဘုံဘိုင်မှာ ညည့်နက်
သန်းခေါင်အထိ ညတိုင်းတန်းစီပြီး
So I fetched the water from the water pipe about over hundred yards away. We lined up until midnight to get a pail of water.


ရေထမ်းခဲ့ရတယ်ကွဲ့၊ သားတို့ အဲဒီလို ဒုက္ခမျိုး မခံရပါဘူးကွယ်
I shouldered the water container. You don't do like that.
ခုလို ရေအခက်အခဲ ဖြစ်တဲ့အချိန်မှာ ကိုယ့်ခြံဝင်းထဲမှာရှိတဲ့အုတ်ကန်က ရေကိုတော့ သောက်သုံးရေအတွက် ခပ်ဖို့ ဖြည့်ဖို့ မပျင်းပါနဲ့ကွယ်
Now at the critical situation, fetch and fill the water from the tank in the compound.
သား သားမှားပါပြီ ဖေဖေ သား အုတ်ကန်ထဲက ရေသွား ခပ်ပြီး သောက်ရေအိုးတွေ ဖြည့်လိုက်ပါ့မယ်
I've done wrong father. I'll fetch and fill the water.
ဒီလိုမှပေါ့ သားရဲ့
Yes, it's good.

## ကျောင်းတွင်း အိမ်တွင်း ရှုပ်နေလျှင် သန့်ရှင်းအောင်တဲ့ ပြုပါကွဲ့.

## When the school and house are in disorder do to normalize




ဒီလိုနဲ့ မေမြတ်နိုး ဟိန်းထက်အောင်နဲ့ နဒီတို့ဟာ မြင့်မိုရ်မေမေနဲ့အတူ တစ်အိမ်လုံး လှည်းကျင်းသန့်ရှင်းကြတယ်။

In this way, May Myat Noe, Hein Htet Aung and Nadi start to clean their house with their mother Myint Mo Mai Mai.






ကိုယ့်ရဲ့အိမ်ရာ
သန့်ရှင်းမှ ကိုယ့်ရဲ့
စိတ်ရှင်းတယ်ကွဲ့၊ စိတ်ရှင်းတော့
စိတ်မရှုပ်တော့ဘဲ စိတ်နှလုံး
ကြည်လင်တာပေါ့ကွယ်
When our house is clean,
our mind will clean too.


စိတ်နှလုံး ကြည်လင်
ချမ်းမြေ့ရင် ကျန်းမာရေး
လည်း ကောင်းနိုင်သလို
When your mind is clean,
your health will be
improved.


လုပ်သမျှ ကိုင်သမျှ
ကြံစည်သမျှ အဆင်ပြေ
နိုင်တယ်ကွဲ့.
Everything will be
done conveniently.
ဟုတ်တယ် မေမေ
အိမ်ရှုပ်ရင် စိတ်ပါ
ရှုပ်တယ်နော်
Yes mother when the
surrounding is messing,
our mind will be
messing too.

ဒါပေါ့ကွယ် ဒါကြောင့်
ကိုယ်နေထိုင်တဲ့ အိမ် ကိုယ်နေ
ထိုင်တဲ့လမ်း ရပ်ကွက်သန့်ရှင်းအောင်
ဝိုင်းဝန်းကြိုးပမ်း သင့်ကြတယ်ကွဲ့.
So, the house, the street, the
ward where we live should
be clean.

သားတို့နေတဲ့ကျောင်းမှာ
ရှုပ်နေရင်လည်း ကျောင်းသူ
ကျောင်းသားတွေက သန့်ရှင်းရေး
ဝိုင်းလုပ်သင့်တယ်. . .
When there is any messing
in your school compound,
you should clean it.

ကျောင်းသန့်ရှင်းတော့
ပညာသင်ရတာလည်း
စိတ်ကြည်လင်တာပေါ့ကွယ်
When the school is clean,
it is the good surrounding
for learning.

ဟုတ်ကဲ့ပါ မေမေ၊
သမီးတို့အိမ်မှာတင်မက
ကျောင်းမှာပါ သန့်ရှင်းရေး
လုပ်ပါ့မယ်
Yes mother, we do not
only in house but also
in school we will
make to clean.

## ကျောင်းပစ္စည်းကိုတဲ့ မယူလို မြွေဆိပ်လိုတဲ့ ကြောက်ပါကွဲ့.

## Don't take religious property as you afraid of the venom of snake

ဓမ္မဒိဋ္ဌာန် ဘုန်းတော်ကြီးကျောင်း
ဟာ မိဘတွေကိုးကွယ်နေတဲ့
ဆရာတော်ရဲ့ကျောင်းမို့
မေမြတ်နိုးတို့ မောင်နှမတွေ
မကြာခဏ အဲဒီကျောင်းဆီ
ရောက်ဖြစ်ကြတယ်။

As the presiding monk of Dhamma Dheittan monastery is revered by their parents, May Myat Noe and her brother and sister used to visit very often.












ဒီလိုနဲ့ ကပ္ပိယကြီး ဦးနန္ဒာဟာ မေမြတ်နိုးတို့ကို စတီးချိုင့်ကြီးနဲ့ အုန်းနို့ခေါက်ဆွဲတွေ ထည့်ပေးလိုက်တယ်။
In this way, the acolyte U Nanda put the extra coconut noodle into the steel jug and give them.




မေမြတ်နိုးတို့ဟာ အဲဒီချိုင့် ဘုန်းတော်ကြီးကျောင်းကို ပြန်ပို့ဖို့ မေ့သွားကြတယ်။
May Myat Noe forgets to return the empty jug.





သုံးလေးရက်ကြာမှ မီးဖိုခန်းထောင့်မှာ ချိတ်ထားတဲ့ စတီးချိုင့်ကြီးကို မြင်းမိုရ်မေမေက သတိပြုမိသွားတယ်။

About three days later, Myint Mo Mai Mai sees the hanging steel jug in the kitchen.

ဟဲ့ သားတို့ သမီးတို့ ဒါ ဘုန်းဘုန်းကျောင်းက ချိုင့်မဟုတ်လား

Children, is the jug is from monastery.

ဟာ ဟုတ်တယ် မေမေ သမီးတို့ သွားပြန်ပို့ဖို့ မေ့နေတာ

Yes, mother, I forget to return it to the monastery.

ဘုန်းတော်ကြီးကျောင်းကပစ္စည်းဆိုတာ မြွေအဆိပ်ထက် ကြောက်စရာကောင်းတယ်ကွဲ့၊ လက်ခံယူမထားကောင်းဘူး

The property from the monastery is more terrible than the venom of the snake.

အလှူရှင်တွေက စေတနာ သုံးတန်ပြဌာန်းပြီး လှူထားတာကို ကိုယ်က ယူမိရင် ငရဲကိုယူမိတဲ့သဘောပဲ

The donor's donate it with dedication to three jewels.

သမီးတို့ မေ့သွားလို့ပါ မေမေ ဒီနေ့ပဲ သွားပြန်ပို့လိုက်ပါ့မယ်

I forget it. I'll return it now.



# အများပိုင်ကို ကိုယ့်ဟာလို ရှိသေကြကွဲ့ ကောင်းအောင်တဲ့

## Take care of public property as your own

တစ်ညနေမှာတော့ မေမြတ်နိုးနဲ့ဟိန်းထက်အောင်တို့ မောင်နှမဟာ လမ်းထိပ် ရေနုတ်မြောင်းကြီးရဲ့ကဘေးက အမှိုက်ပုံတွေမှာ အမှိုက်သွားပြီး စွန့်ပစ်ကြတယ်။

In one evening, May Myat Noe and Heing Htet Aung, discard the garbage at the heap of rubbish beside the irrigated trench.



ရေနုတ်မြောင်းအနီးက အမှိုက်ပုံးထဲ အမှိုက်ထုပ်ကြီးကို ဟိန်းထက်အောင်က ပစ်ထည့်လိုက်ရာ

When Hein Htet Aung hurls the bag of garbage into the rubbish bin....




ဘုံး


အမှိုက်ထုပ်ရဲ့ အလေးချိန်နဲ့
ပစ်လိုက်တဲ့အရှိန်ကြောင့်
အမှိုက်ပုံးဟာ မြောင်းကြီးထဲ
လိမ့်ဆင်းထိုးကျသွားတော့တယ်။
Because of weight of bag
of garbage and momentun,
the rubbish bin falls down
into the trench.


ဟယ် မောင်လေးရေ
ဘယ်လိုလုပ်ကြမလဲ
Heh! How have
you done it.
ဘယ်လိုမှမလုပ်နဲ့
နေပါစေ ထားလိုက်
Do nothing.
Let it be.


အဲဒီလို မျက်နှာလွှဲ
ခဲပစ်လုပ်လို့ ဘယ်ဖြစ်မှာလဲ၊
အဲဒီအမှိုက်ပုံးဟာ အများပြည်သူ
ပိုင်တဲ့ပစ္စည်း။ အများပိုင်ပစ္စည်းကို
မိမိရဲ့ပစ္စည်းလိုတန်ဖိုးထား
စောင့်ရှောက်ရမယ်ကွယ့်
Don't do like that. The rubbish
bin is public property. You
must value it as
your own.
လာ အဲဒီအမှိုက်ပုံးကို
ပြန်ကောက်တင်ကြမယ်
Let's bring this
rubbish bin up
from the trench.

ဒီလိုနဲ့ ဟိန်းထက်အောင်က ရေစပ်စပ်သာရှိတဲ့ ရေနုတ်မြောင်းထဲဆင်းပြီး အမှိုက်ပုံးကို အောက်က တွန်းတင်ပေးသလို မေမြတ်နိုးက ဆွဲတင်တယ်။

Hein Htet Aung gets into the shallow trench and pushes up and May Myat Noe pulls it up.






ဘာပဲဖြစ်ဖြစ် အများပိုင်ပစ္စည်းကို ပစ်စလက်ခတ်မလုပ်ဘဲ မိမိတို့ရဲ့ပစ္စည်းလို သဘောထားပြီး စောင့်ရှောက်ထိန်းသိမ်းနိုင်ခဲ့ကြတဲ့အတွက် မေမြတ်နိုးတို့ မောင်နှမဟာ ပီတိဝေဖြာ မဆုံးကြတော့ပါ။

Anyhow, they did not ignore the public property. So they both feel ecstasy.



## ဝေယျာဝစ္စ ကျောင်းအိမ်မှာ လျော်စွာလုပ်ကွဲ့ မခိုနဲ့

Do daily routine in school and at home









ငါတို့တွေပဲ လုပ်ရမှာ၊
နဒီက ပန်းကန်တွေ အိုးတွေ
ဆေးနေတယ်

Nadi is washing the
plates. We have to do
housedhold
works.

မမက ထမင်းဟင်းချက်ရမယ်၊
မောင်လေးက ဈေးဆိုင်သွားပြီး
ချက်ပြုတ်ရာမှာ လိုတဲ့ပစ္စည်းလေးတွေ
ဝယ်ပေး၊ ပြီးရင် ခြံသန့်ရှင်းရေးလုပ်ရမယ်

I'll cook the rice. You go to shop
and buy necessary things. Then we
must clean the compound.

ဟာဗျာ
အလုပ်ကိုရှုပ်နေတာပဲ
အဲဒီအလုပ်တွေ မလုပ်ချင်
ပါဘူး။ ဈေးဆိုင်လည်း
မသွားချင်ဘူး

It's too busy. I want
to do nothing.


တဲ့ မလုပ်လို့မရဘူးလေ၊ အိမ်ရဲ့ဝေယျာဝစ္စတွေ ကိုယ်နိုင်သလောက် ဝိုင်းကူလုပ်မှပေါ့
It won't be like that. We must do the daily routine.


အင်းလေ ကိုကိုကလည်း ညီမလေးလည်း လုပ်တာပဲ၊ မရိုမကာပ်ပါနဲ့
Brother, I also do the household works.


မေမေက ပြောတယ်၊ အိမ်မှာဖြစ်စေ ကျောင်းမှာ ဖြစ်စေ ဝေယျာဝစ္စတွေ ဝိုင်းလုပ်ရမယ်၊ မရိုမကာပ်ရဘူးတဲ့
Mother said that we must do daily chores at school and at home.
ကဲ ကဲ ကောင်းပါပြီဗျာ ကောင်းပါပြီ ဝိုင်းလုပ်ပါတော့မယ်
Well, I'll help you.



# ဧည့်သည် အာဂန္တု ရောက်လာမှု ဆူ၍ညံကာ မနေနဲ့

## When the guests arrive don't make noise loudly










ဧည့်သည်တွေကလည်း ဂိမ်းကစားလို့ကောင်းနေကာမှ ရောက်လာရတယ်လို့
While we are playing game, the guest arrrive.
နဒီ ဒီပွဲမှာ ငါ နိုင်တယ်နော်
Nadi, I'm the winner this time.


အို မနိုင်ပါဘူး ကိုကိုက ညစ်တယ် အစက ပြန်ဆော့မယ်
No, you are not. Let's start again.


ဘာညစ်တာလဲ နင်ရှုံးပြီ နင့်မုန့်ဖိုး ငါ့ပေး
What? You lose. Give me your pocket money.
မပေးဘူး
No.


မပေးရင် လုတယ်
If you don't, I'll take it by force.
အာ ပြန်ပေးနော် ပြန်ပေး
Err! Give it back to me.

မောင်နှမ နှစ်ယောက် အော်ဟစ်လုံးထွေးနေ တော့တယ်။

Brother and sister are struggling.

ဟဲ့ ဟဲ့ ဘယ်လိုဖြစ်ပြီး ဝုန်းဒိုင်းကြဲနေကြတာလဲ

Heh! What has happened. It's too noisy.

အိမ်ကို ဧည့်သည်လာတဲ့အချိန်မှာ မဆူညံရဘူးဆိုတာ မသိကြဘူးလား။ နင်တို့ ဆူညံပြီး ပြောင်းဆန်နေတော့ ဧည့်သည်က မေမေတို့ အိမ်ကို ပရမ်းပတာ စည်းမဲ့ကမ်းမဲ့အိမ်လို့ ထင်သွားမှာပေါ့ကွဲ့.

Don't make a noise loudly while the guests are here. They think that our family is in disorder.

ပြီးတော့ သားဆိုးသမီးဆိုးတွေကို မိဘက မအုပ်ထိန်း မဆုံးမနိုင်တဲ့ အိမ်လို့ အထင်သေးသွားမှာပေါ့ သားတို့သမီးတို့ရဲ့

Moreover they will think that parents cannot admonish their bad children.

သားတို့ သမီးတို့ မှားပါတယ် မေမေ၊ မဆူညံတော့ပါဘူး

We've done wrong, mother.



## မိန်းကလေးမှာ အရာရာ ပျာယီးပျာယာ မရှိပ်နဲ့

## As a girl don't do casually












အပျော်လွန်ပြီး ရှပ်တီးရှပ်ပျာ ပြေးထွက်လာတဲ့ မေမြတ်နိုးဟာ ခလုတ်တိုက်ပြီး လဲတော့တယ်။

Over-joyed and rushes, May Myat Noe bumps against and fall down.




မြင့်မိုရ်မေမေဟာ အိမ်ထဲက ပြေးထွက်လာပြီး သမီးဖြစ်သူကို ကမန်းကတန်း ပွေ့ထူတယ်။

Myint Mo Mai Mai rushes and helps her daughter.




ဒူး ဒူးပဲ နာသွား
ပါတယ် မေမေ
I suffer slight pain.


သမီးကို မေမေ
ဆုံးမထားတာ မေ့သွားပြီလား။
မိန်းကလေးဆိုတာ ပျာယီးပျာယာ
ရှပ်ပျာပျာမလုပ် ရဘူးဆိုတာကိုလေ
You forget what I've admonished.
The girl should not flirt and
casual habit.


သမီး ဝမ်းသာအားရ
ဖြစ်ပြီး သတိလက်လွတ်
သွားလို့ပါ မေမေ
I'm very glad and
rush outside.
နောင်ကို သမီးဆင်ခြင်
ပါ့မယ်၊ ရှုပ်တီးရှုပ်ပျာ မဖြစ်
စေရတော့ပါဘူး
Later I'll refrain from
doing so.

## မိန်းမ မင်း ဆင် ရဟန်းလျှင် ဣန္ဒြေရှင်ကွဲ့ လေးဦးတဲ့

## Woman, king, elephant and monk must keep their solemnity

ဟိုနေ့က
ပိတောက်ပန်းတွေ
ပွင့်တဲ့နေ့မှာ သမီး ပျာယီးပျာယာ
လုပ်လို့ ချော်လဲပြီး ဒူးစုတ်
သွားရတယ်မဟုတ်လား
Last day, when the padauk were blooming, you rushed out and your knee had been torn.

တကယ်တော့ မိန်းမရယ်
မင်းရယ် ဆင်ရယ် ရဟန်းရယ်ဟာ
ဣန္ဒြေစောင့်ထိန်းရတဲ့သူ ဣန္ဒြေရှင်
လေးဦးပဲကွယ့်
There are four creatures that keep their solemnity. They are woman, king, elephant and monk.

ဘယ် ဘယ်လို ဣန္ဒြေ
စောင့်ထိန်းရတာလဲ
မေမေ ရှင်းပြပါလား
Explain me how to keep solemnity?



ဒီလိုကွယ့် မိန်းမဆိုတာ
ဣန္ဒြေသိက္ခာရှိမှ တန်ဖိုးရှိတယ်၊ ဣန္ဒြေသိက္ခာ
မဲ့ရင် တန်ဖိုးမဲ့တယ်၊ ဒါကြောင့် မိန်းမတို့ဣန္ဒြေ
ရွှေပေးလို့မရဆိုပြီး ရှေးပညာရှိတွေက
ဆိုစကား ထားရစ်ခဲ့ကြတယ်ကွယ့်
Solemnity enhance the prestige of woman.
So there is a saying that solemnity of
woman can't be exchange
with the gold.

ဘုရင်မင်းတွေဟာလည်း
ဝမ်းသာတာ ဝမ်းနည်းတာ ချောက်ချား
တုန်လှုပ်တာ ဂုဏ်ယူဝံ့ကြွားချင်တာတွေကို
ဘွင်းဘွင်းကြီး မပေါ်လွင်စေဘဲထိန်းရတယ်
The king must conceal his joy,
sorrow, fear and trembling,
king should not reveal his
emotion openly.

အဲဒါကို ရာဇဣန္ဒြေ
လို့ဆိုတယ်
It's known as royal
solemnity.




ဆင်ဟာလည်း ဒီလိုပဲ
ဣန္ဒြေကြီးမားတဲ့
သတ္တဝါဖြစ်တယ်၊ ရှေ့ကိုသွားနေတဲ့
ဆင်ဟာ နောက်ကျောမလုံလို့ဣန္ဒြေမဲ့စွာ
နောက်ဘက်လှည့်ကြည့်တယ်ဆိုတာမရှိဘူး။
အင်မတန်မှဣန္ဒြေစောင့်ထိန်းကြတဲ့
သတ္တဝါတွေပဲ
The elephant is solemn animal. It goes steadily forward without looking back.


ရဟန်းသံဃာ
အရှင်သူမြတ်တွေဟာလည်း
ဝိနည်းတော်နဲ့အညီ နေရသူများမို့ ဝမ်းသာခြင်း
ဝမ်းနည်းခြင်းပြင်းစွာ မဖြစ်စေဘဲ ဣန္ဒြေ
သိက္ခာပုဒ်ကို စောင့်ထိန်းရတယ်ကွယ့်
Monk, in accordance with moral conduct, doesn't reveal happiness and sorrow openly. He must keep the solemnity.




ဒါကြောင့် မိန်းမ မင်း
ဆင် ရဟန်းတို့လေးဦးဟာ
ဣန္ဒြေရှင်လေးဦးပဲ ဖြစ်ကြ
တယ်ကွယ့်
So those four creatures possess the solemnity.



# မိန်းမ ဣန္ဒြေ သိရ်သရေ စိန်ကုဋေတန်သကွဲ့ မှတ်လေတဲ့

## Modesty of woman costs ten millions of diamond

မိန်းမတို့ရဲ့တန်ဖိုးဟာ ဣန္ဒြေပါပဲ။ မိန်းမတွေဟာ ဘယ်လောက်ပဲ ပြင်းထန်စွာ စိတ်မှာခံစားရပါစေ ဣန္ဒြေနဲ့ ထိန်းသိမ်းနိုင်ကြဖို့ လိုပါတယ်။

The modesty and solemnity are value of woman. However she feels delight or suffer sorrow she conceals those emotions.



ကိုယ်ကျင့်သိက္ခာကို စောင့်ထိန်းပြီး လောဘ ဒေါသ မောဟတွေကိုပါ ထိန်းချုပ်နိုင်တဲ့ မိန်းမဟာ မိန်းမကောင်း မိန်းမမြတ်ပါပဲ။

Keeping her moral discipline and controls her anger and greediness. She will be the noble woman.

မိန်းမကောင်း မိန်းမမြတ်တွေဟာ သစ္စာတရားကိုလည်း တန်ဖိုးထားကြပြီး သူမတို့ကို ငွေကြေးဓနတို့နဲ့ ဖြားယောင်းသွေးဆောင်လို့ မရပါဘူး။

The noble woman is faithful and cannot be persuaded by money and luxury.



စာရိတ္တမဏ္ဍိုင် ခိုင်မာပြီး မိမိရဲ့ကုန္ဒြေသိက္ခာကို ထိန်းသိမ်းနိုင်စွမ်းရှိတဲ့ မိန်းမကောင်း မိန်းမမြတ်တွေဟာ ...

The noble woman who keeps modesty and good character is ....




မိန်းမတို့ ဣန္ဒြေ သိရ်သရေ
စိန်ကုဋေမက တန်သူများပဲ
ဖြစ်ကြပါတယ်။
As valuable as ten millions of diamond.
ဒါကြောင့် သမီး မေမြတ်နိုး
သမီးဟာ ဣန္ဒြေသိက္ခာကြီးမားတဲ့
မိန်းကလေးဖြစ်အောင် စောင့်ထိန်း
ကြိုးစားရမယ်
So, May Myat Noe you must try to become a modest young woman.


ဣန္ဒြေမဲ့တန်ဖိုးမဲ့သူ
မဖြစ်အောင် သတိထားရမယ်နော်
Beware of being a woman of lack of modesty and solemnity.


သမီး ဣန္ဒြေရှင် မိန်းမကောင်း
မိန်းမမြတ်ဖြစ်အောင် ကြိုးစား
ပါ့မယ် မေမေ
I'll try to become a young woman of modesty.



# လူရှုပ်လူပွေ လူယုတ်တွေ ရှောင်ရှားလေကွဲ့ ဝေးဝေးတဲ့

## Refrain from relation with hooligans







လမ်းဘေး အကြော်တဲထဲမှာ အရက်ထိုင်သောက်နေကြတဲ့ တစ်ရပ်ကွက်တည်းနေ ဦးကြည်စိုးနဲ့ ဦးသက်တို့က လှမ်းခေါ်တာကို ဟိန်းထက်အောင်က ငြင်းလိုက်တယ်။

U Kyi Soe and U Thet who are drinking alcohol at the way-side fried snack seller, call on Hein Htet Aung and he denies.















အရက်ပုန်းဆိုင်မှာ အရက်ဝယ်ပြီး ပြန်အထွက် မြင့်မိုရ်မေမေနဲ့ ပက်ပင်းတိုးတော့တယ်။
After he has bought from an illegal liquor shop, he meets his mother Myint Mo Mai Mai.




ကြည့်စမ်း သား ဒါ ဘာလုပ်တာလဲ
Hey! What are you doing, son?
ဟို ဟို ဦးကြည်စိုးတို့က ဝယ်ခိုင်းလို့ပါ မေမေ
I am asked to buy it by U Kyi Soe.


ဟိန်းထက်အောင်က အကျိုးအကြောင်း ရှင်းပြလိုက်တယ်။
Hein Htet Aung explains about it.
အဲဒီ ကြည်စိုးနဲ့မောင်သက်တို့ ညီအစ်ကိုဟာအရက်သမား လူရှုပ်လူပွေ လူယုတ်မာတွေကွဲ၊ သူတို့လိုလူမျိုးကို ဝေးဝေးရှောင်ရတယ်
Those Kyi Soe and Maung Thet are drunkard. Don't make friend with such hooligans.


သွားသူတို့ကိုပေးစရာရှိတာ သွားပေး။ သူတို့ပေးတဲ့ မုန့်ဖိုးလည်း ပြန်ပေးလိုက်
Give them what they want and return back their pocket-money.
ကလေးတွေ မိန်းမတွေကို ငွေနဲ့မျှား ဖျက်ဆီးပြီး လူကုန်ကူးဖို့ ကြံစည်နေတဲ့ အဲဒီလူရှုပ်တွေကို ဝေးဝေးက ရှောင်ပါ သားရယ်
Those hooligans used to lure the women with money and commit human-trafficking.



## ဘိန်းအရက်ကို မရှုမျှ မစင်လိုတဲ့ ရွံပါကွဲ့

Be loathsome to liquor and opium



အဲဒါပဲ သား၊ ဘိန်းတို့
အရက်တို့လို မူးယစ်စေတဲ့
အရာတွေဟာ လူတွေကို
လုံးဝအကျိုးမပြုဘူး
Drinking liquor is not
good for all the human.

အမူးလွန်ပြီး ခုလို လမ်းဘေးလဲနေ
တော့ ဘယ်လောက်ရှက်စရာကောင်း
သလဲ၊ တစ်ညလုံး အဲဒီမှာ လဲနေရင်
လေဖြတ်ပြီးလည်း သေသွားနိုင်တယ်
How shameful it is lying beside
the road. He will be paralyzed
too.

ဘယ်လိုမှ ကောင်းကျိုး
မပေးတဲ့ ဘိန်း အရက်တို့ကို
လုံးဝ ရှောင်ပါ သားရယ်
Refrain from drinking
liquor and smoking
opium, son.


စိတ်ချပါ မေမေ၊
သားကြီးလာရင် အရက်သမား
မူးယစ်ဆေးဝါးသမား
မဖြစ်စေရဘူး
Don't worry mother, I won't be drunkard and opium addict.


အဲဒီလို မဖြစ်စေဖို့ ဘိန်းတို့
အရက်တို့ရဲ့ဆိုးကျိုးကိုကြည့်ပြီး
မစင်ထက် ရွံရှာနေဖို့လိုတယ်သားရဲ့
So think that it is as loathsome as human waste.


သား သားလည်း
ဘိန်းတို့ အရက်တို့ကို
မစင်လိုပဲ ရွံရှာပါတယ်
မေမေ
I also loathsome to liquor and opium.

## ကုန်းချောကြမ်းကြုတ် အကျင့်ယုတ် မဟုတ်စကား မပြောပါနဲ့

Don't tell mischief and lie






နဒီဟာ အစ်ကိုဖြစ်သူ ဟိန်းထက်အောင်ကို အငြိုးထားပြီး အိမ်လည်း
ရောက်ရော မအေဖြစ်သူ မြင့်မိုရ်မေမေကို ကုန်းချောတော့တယ်။

Nadi tells mischief how his brother Hein Htet Aung to her mother Myint Mo Mai Mai with grudge.







ဟိန်းထက်အောင်လည်း ပြန်ရောက်လာရော မြင့်မိုရ်မေမေက အကြီးအကျယ် ဆူတော့တယ်။

When Hein Htet Aung returns, his mother Myint Mo Mai Mai scolds him.



မသောက်ပါဘူး မေမေရာ၊ ဂိမ်းဆော့တာနိုင်တဲ့ ပိုက်ဆံ မပေးလို့ဆိုပြီး မေမေ့သမီးက မဟုတ်တာပြောပြီး ကုန်းချောတာပါ
I didn't drink liquor. Your daughter tells mischief because I didn't give her the money, when I lost at game.

ဟုတ်လား သမီး၊ သမီးရဲ့ကိုကို အရက်သောက်တာ သမီးမြင်လို့လား မှန်မှန်ပြောနော်
Daughter, did you really see your brother drank liquor? Tell me the truth.

မ မမြင်ပါဘူး
No, I didn't.

ဒါဆို စောစောက မြင်တဲ့ပုံစံနဲ့ ကုန်းချောစကား ဘာကြောင့်ပြောရတာလဲ သမီး၊ အဲဒီလို အကျင့်မယုတ်ရဘူးကွယ်
If so, why do you tell mischief. Don't do like that again.

မမှန်မဟုတ်တဲ့ စကားနဲ့ ကုန်းချောတာဟာ အကျင့်ယုတ်တာပဲ၊ နောင် အဲဒီလို ဘယ်တော့မှ ကုန်းမချောပါနဲ့ သမီး
Telling mischief is bad habit. Don't tell mischief again.

ဟုတ် ဟုတ်ကဲ့ပါ မေမေ
Yes, mother.



# မျက်မှောက်တစ်သွယ် မျက်ကွယ်တခြား အကျင့်မှား ရှောင်ရှားပါကွဲ့ ကောင်းအောင်တဲ့

## Don't do misdeed in front and behind










အဲဒီအကြောင်း မေမြတ်နိုးတိုင်လို့ မြင့်မိုရ်မေမေ သိသွားတော့တယ်။
May Myat Noe informs about it to her mother Myint Mo Mai Mai.
မေမေ့သားကို ဆုံးမထားပါ မေမေ
Mother, admonish your son.


သား မင်း စီးကရက်တွေ သောက်လို့ဆို
Son, do you smoke the cigarette?


ဟို ဟို သား စမ်းဖွာ ကြည့်တာပါ မေမေ
I started to test and smoke it.
စမ်းဖွာစရာလည်းမလိုဘူး။ သားရဲ့အရွယ်လေးနဲ့ စီးကရက်တွေ ဆေးလိပ်တွေ လုံးဝမသောက်သင့်ဘူး။ ပညာသင်နေတဲ့အချိန်မှာ ဉာဏ်ထိုင်းသွားမယ်
Don't smoke at that age. As you are young, you should not smoke it.




အေး မကောင်းတဲ့အကျင့်ကို
မိဘရဲ့ရှေ့မှာဖြစ်စေ မိဘရဲ့
ကွယ်ရာမှာဖြစ်စေ မကျင့်ကြံ
ရဘူးကွယ့်
The bad habit should not
do in front and behind
your parents.

စိတ်ချပါ မေမေ၊ မေမေတို့ရဲ့
ရှေ့မှောက်မှာရော မျက်ကွယ်မှာပါ
စီးကရက်မသောက်တော့ပါဘူး
မေမေ
Don't worry mother. I don't
smoke in front of and
behind mother.

## မိခင် ဖခင် ဆရာရှင် နေ့စဉ်မမေ့နဲ့ ရှိခိုးကွဲ့.

## Worship your parents and teachers everyday




ညဥ့်နက်ပြီမို့ အရမ်းအိပ်ချင်နေကြတာနဲ့ မေမြတ်နိုးတို့ မောင်နှမတစ်စုဟာ ဘုရားခန်းဆီ မသွားဖြစ်တော့ဘဲ အိပ်ခန်းတွေဆီသာ သွားကြတော့တယ်။

As it is deep in the night time, they are sleepy,. So May Myat Noe and her brother and sister do not go in front of the altar and go directly to their bed-room.






သားတို့ သမီးတို့ အိပ်ရာဝင်ခါနီး ဘုရားရှိခိုးဖို့မမေ့ကြနဲ့လေ
Children, don't forget to worship the Buddha before you enter into your bedroom.


သမီး သမီးတို့ အရမ်း အိပ်ချင်နေလို့ပါ မေမေ
Now, I'm very sleepy, mother.


အဲဒီလို အကြောင်းမပြနဲ့ကွဲ့၊ ကိုယ်လုပ်ချင်ရာလုပ်ပြီး ဘာသာတရားကို မေ့ထားရင် အကျိုးယုတ်တတ်တယ်
Don't give any reason. You did what you like but don't forget the Buddha.




မြင်းမိုရ်မေမေရဲ့ ဆိုဆုံးမမှုကြောင့် မေမြတ်နိုးတို့ဟာ ဘုရားကို ဝတ်မပျက် ရှိခိုးကြပြီးမှ အသီးသီး အိပ်ရာဝင်ကြရတော့တယ်။

Because of Myint Mo Mai Mai's admonishment, the children worship in front of the altar and sleep in their bed.



# ဘုရား ပုထိုး ဦးညွတ်ကျိုး ရှိခိုးအိပ်ကွဲ့ မမေ့နဲ့

## Worship the pagodas and stupas and sleep









အဲဒီလို အနန္တော အနန္တငါးပါးရဲ့ဂုဏ်ကျေးဇူးကို မမေ့လျော့ဘဲ ရှိခိုးဦးခိုက်လေ့ရှိတဲ့အတွက် မေမြတ်နိုးတို့ မောင်နှမတွေဟာ ဘေးရန်ကင်းရှင်းပြီး ...

Because of paying homage to five benefactors, May Myat Noe and her brother and sister are safe wherever they go.





လုပ်ကိုင်ကြစည်သမျှလည်း
အောင်မြင်ကြတယ်။

Their business is successful
and prospered.



ဒီကလေးတွေဟာ
လိမ္မာရုံမကဘူး၊ စာလည်းတော်
ကြတယ်နော်၊ စာမေးပွဲတိုင်း ဆုတွေ
ရကြတယ်...

These children are not only
clever but they are good at
learning also. They get prize
in the exam.

ဒါကြောင့် ကလေးတို့ဟာလည်း မေမြတ်နိုးတို့
မောင်နှမတစ်စုလိုပဲ အနန္တော အနန္တငါးပါးရဲ့
ဂုဏ်ကျေးဇူးကို မမေ့မလျော့ဘဲ နေ့စဉ် ရှိခိုး
ဦးခိုက်နိုင်ကြပါစေကွယ် ...

So, all the children must pay homage
to five benefactors like May Myat Noe
and her brother and sister.





## ကိုယ့်ပေါ်ပြုဖူး သူ့ကျေးဇူး အထူးမမေ့နဲ့ ပြန်ဆပ်ကွဲ့

## Don't forget the debt of gratitude

ဟိုဘက်လမ်းက အန်တီ ဒေါ်မြနွဲ့ကို ဆေးရုံတင် လိုက်ရတယ်တဲ့ မေမေ

Mother, aunty Daw May Nwe from next street is hospitalized.

ဟယ် ဘာဖြစ်လို့လဲ သမီး

What has happened to her?

လေဖြန်းသွား လို့တဲ့

She suffers mild stroke.

အို ဟုတ်လား မဖြစ်ဘူး လူနာစားဖို့ မုန့်တွေ ဟောလစ်တွေဝယ်ပြီး ဆေးရုံကို သတင်းသွားမေးမှ

Oh! I had to send some food and holick and ask about her.

အဲဒီလောက်လိုလို့လား မေမေ၊ သမီးတို့နဲ့ ဆွေမျိုးမှမတော်ဘဲ

It doesn't need like that because she isn't our relative.




ဆွေမျိုးမတော်ပေမယ့် မေမေ ဆေးရုံတက်တုန်းက မပြတ်ခဲ့တာ အကူအညီအများကြီး ပေးဖူးတယ် သမီး
Though she isn't our relative, she came and soothed me when I was hospitalized.


ကိုယ့်အပေါ် ပြုဖူးတဲ့ သူတစ်ပါးရဲ့ကျေးဇူးကို မမေ့အပ်တဲ့အပြင်
We must not forget the other's beneficence.


ပြန်ဆပ်ခွင့်ကြုံရင် ဆပ်ရတယ် သမီးရဲ့
We must pay back the debt of gratitude.



ဒါနဲ့ အဲဒီနေ့ ညနေမှာပဲ မေမြတ်နိုးတို့
သားအမိဟာ မုန့်တွေ ဟောလစ်တွေဝယ်ပြီး
ဆေးရုံဆီ သွားကြကာ ဒေါ်မြနွဲ့ကို
ပေးအပ်ကြတယ်။

So May Myat Noe and her mother buy cakes and horlick go to the hospital and give Daw Mya Nwe.



ကျေးဇူးရှိဖူးသူကို ကျေးဇူးပြန်ဆပ်နိုင်တဲ့
အတွက် မြင့်မိုရ်မေမေဟာ ကျေနပ်ပီတိ
ဖြစ်လို့နေပါတယ်။ ကလေးတို့လည်း ကိုယ့်
အပေါ် ပြုဖူးတဲ့ သူတစ်ပါးရဲ့ကျေးဇူးကို
မမေ့မလျော့ဘဲ ကျေးဇူးတုန့်ပြန် ဆပ်နိုင်
ကြပါစေကွယ်...

Myint Mo Mai Mai is delighted to pay back the debt of gratitude. The children should not forget to give back the debt of gratitude of the others.




The End.

